




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၇၆၈.............. / ၂၀၁၀ ။ ၂၀၁၀ ခုနှစ်၊ ဒီဇင်ဘာ လ ၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ ဦးစိုးဝေ

(ခ) အဘအမည် ........ ဦးချိန်ဝှက်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ........ ၇/ပမန(နိုင်) ၀၁၇၆၁၉

(ဃ) နေရပ်လိပ်စာ ........ လှျပ်စစ်ဝင်း၊ ဗိုလ်ခြံ၊ ပျဉ်းမပင်၊မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ........ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက် ( Toe Myat Aung Garment Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ........ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဇာပန်းထိုး/ဇာပန်းကပ် ချုပ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ........ မြေကွက်အမှတ်(၁၀၉)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄) ဗိုလ်အောင်ကျော်လမ်း၊ရွှေသံလွင်စက်မှုဇုန်၊လှိုင်သာယာမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ........ ၁၁၉.၄၉၅ (သန်း) (ကျပ်တစ်ရာတစ်ဆယ့်ကိုးသန်း၊ လေးသိန်း၊ကိုးသောင်း၊ငါးထောင်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

**အမိန့်ကြော်ငြာစာအမှတ်၊ ၅၁/၂၀၁၀(မနသ)**

**ရန်ကုန်မြို့၊ ၁၃၇၂ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် ၁၁ ရက်**

**(၂၀၁၀ခုနှစ်၊ ဒီဇင်ဘာ လ ၂ ရက်)**

၁။ မြန်မာကုမ္ပဏီဖြစ်သော တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Toe Myat Aung Garment Co., Ltd.) သည် ဦးညီညီလွင် နှင့် ဒေါ်မိမိအောင် (ခ) တန်ဘိဘိ အမည်ဖြင့် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့်ရရှိထားသောမြေကွက်အမှတ် (၁၀၉)၊ မြေတိုင်း ရပ်ကွက် အမှတ် (၁၄)၊ ဗိုလ်အောင်ကျော်လမ်း ၊ရွှေသံလွင် စက်မှုဇုန် ၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိမြေ (၂.၃၈၆) ဧက (၁၀၃၉၃၅ စတုရန်းပေ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ များအား ငှားရမ်း၍ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဇာပန်းထိုး/ဇာပန်းကပ် ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၁၇-၉-၂၀၁၀)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင် ၏ (၃၀/၂၀၁၀) အစည်းအဝေး သို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၁၃-၁၀-၂၀၁၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၃၂/၂၀၁၀) အစည်းအဝေး သို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေးမှ သဘောတူညီချက်အရ (၁၈-၁၁-၂၀၁၀) နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၄/၂၀၁၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင် ခွင့်များကို ကျင့်သုံးလျှက် တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Toe Myat Aung Garment Co., Ltd.) အား CMP စနစ် ဖြင့် နိုင်ငံတကာအဆင့်မီ ဇာပန်းထိုး/ဇာပန်းကပ် ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၇၆၈ / ၂၀၁၀ ကို ထုတ်ပေးလိုက်သည်။

၂။ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Toe Myat Aung Garment Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါ အဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပြုသည်။ ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း ချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့် များကို ခံစားခွင့် ပြုနိုင် ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

လျှို့ဝှက်

(က) ဥပဒေပုဒ်မ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ်ငွေ ပေါ်တွင် (၅၀%) အထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Toe Myat Aung Garment Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Toe Myat Aung Garment Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေ နှင့် အဆောက်အဦ အငှားချထားသူ ဦးညီညီလွင် နှင့် အငှားချထားခြင်း ခံရသူ ဦးစိုးဝေ [ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ

လီမိတက် (Toe Myat Aung Garment Co., Ltd.) ]တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုး ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၆။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များ ကို တိကျစွာ လိုက်နာ ဆောင်ရွက် ရမည်။

၇။ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Toe Myat Aung Garment Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင် သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြား တင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရ မည်။

၈။ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Toe Myat Aung Garment Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကိုဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။

၉။ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Toe Myat Aung Garment Co., Ltd.) သည် အဆိုပြုချက်တွင် ဝန်ခံကတိပြုထားသည့် အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက် ရမည်။

၁၀။ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Toe Myat Aung Garment Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများ ကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၆)လတစ်ကြိမ် ( ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီး မြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၂။ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက် (Toe Myat Aung Garment Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန များမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၃။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့ အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက် မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(မောင်မောင်သိမ်း)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၀၈၂ / ၂၀၁၀ ( ၁၉၄၆၇ )
ရက်စွဲ၊ ၂၀၁၀ခုနှစ်၊ ဒီဇင်ဘာ လ ၂ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၅။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။

၆။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၇။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၈။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၉။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။

၁၀။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၂။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၃။ အလုပ်သမား ဝန်ကြီးဌာန။

၁၄။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၅။ ဥက္ကဋ္ဌ ၊CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ။(အမှတ်(၁)စက်မှုဝန်ကြီးဌာန)

၁၆။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၇။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၆။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၇။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၃၀။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၃၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ အထည်ချုပ် လုပ်ငန်းရှင်များ အသင်း၊ ရန်ကုန်။

၃၂။ အုပ်ချုပ်မှုဒါရိုက်တာ၊ တိုးမြတ်အောင်အထည်ချုပ် ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd.)

ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

စာအမှတ်၊ ၃၉ / ၁၄၈ /အဖရ (၄၄/ ၂၀၁၀ )။
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ နိုဝင်ဘာလ ၂၄ ရက်။

အ မှာ စာ

အကြောင်းအရာ။ တိုးမြတ်အောင် အထည်ချုပ်ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd.) မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဇာပန်းထိုး/ ဇာပန်းကပ် ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ ၂၀၁၀ ခုနှစ်၊ နိုဝင်ဘာလ ၁၈ ရက်( ကြာသပတေး ) နေ့တွင် ကျင်းပ ပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၄/၂၀၁၀) မှတ်တမ်း ကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်း ပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူ ဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

အတွင်းရေးမှူး( ကိုယ်စား )
(အောင်လွင်ဦး)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

၃၉။ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd.) မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဇာပန်းထိုး/ ဇာပန်းကပ်ချုပ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြု တင်ပြခြင်း ကိစ္စ။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ခုနှစ်၊ နိုဝင်ဘာလ ၁၀ ရက် နေ့စွဲပါ အမှာစာအမှတ်၊ ရက - ၆ (ခ) / မ - ၁၄၉၆/ ၂၀၁၀ (၁၈၂၈၉)။

အမှာစာကို သဘောတူကြသည်။

ဆောင်ရွက်ရန်၊
ရင်းနှီးမြှုပ်နှံမှု။

ပြည်ထောင်စုမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(ခ)/မ-၁၄၉၆/၂၀၁၀( ၇၈ ၂၈၉ )

ရက်စွဲ၊၂၀၁၀ ခုနှစ်၊ နိုဝင်ဘာလ ၁၀ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်

## အမှာစာ

အကြောင်းအရာ။ ။ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd.) မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဇာပန်းထိုး/ ဇာပန်းကပ် ချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd.) သည် ဦးညီညီလွင်နှင့် ဒေါ်မိမိအောင်(ခ)တန်ဘိဘိ အမည်ဖြင့် မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့် ရရှိထားသော မြေကွက် အမှတ် (၁၀၉) ၊ မြေတိုင်း ရပ်ကွက် အမှတ်(၁၄) ၊ ဗိုလ်အောင်ကျော်လမ်း၊ ရွှေသံလွင်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ (၂.၃၈၆)ဧက(၁၀၃၉၃၅ စတုရန်းပေ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဇာပန်းထိုး/ဇာပန်းကပ် ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိုးဝေ (အဘ- ဦးချိန်ဝှက်) မှ အဆိုပြုတင်ပြလာပါသည်။ ယင်း အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့် အား (၁၃-၁၀-၂၀၁၀) နေ့တွင် ကျင်းပ ပြုလုပ် သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ (၃၂/ ၂၀၁၀) အစည်းအဝေးသို့တင်ပြခဲ့ရာ လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ နောက်ဆက်တွဲ(က)

၂။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာန/ အဖွဲ့အစည်းများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်။

(က) အမှတ်(၁)စက်မှု ဝန်ကြီးဌာန - ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိပါကြောင်း၊ CMP လက်ခနှုန်းများတင်ပြထားမှုသည် ဆီလျော်မှု ရှိပါ ကြောင်း၊ နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစားညီမျှမှု ရှိပါကြောင်းနှင့် အဆိုပြု တင်ပြချက်အပေါ် ကန့်ကွက်ရန် မရှိပါကြောင်း၊ နောက်ဆက်တွဲ(ခ)

(ခ) ဆောက်လုပ်ရေးဝန်ကြီးဌာန - အဆိုပြု မြေကွက်အားစိစစ်ရာ (၂.၃၈၆) ဧက တွင် (၂၅၂′ x ၁၇၀′) Steel Structure တစ်ထပ်စက်ရုံ အဆောက်အဦ နှင့် တွဲလျက် (၅၄′ x ၁၃၈′) ရှိ RC (၃) ထပ် အဆောက်အဦ (၁)လုံး ဆောက်လုပ် ထားပြီး ၊

ကုမ္ပဏီမှ လုပ်ငန်းအား စမ်းသပ်လည်ပတ်လျှက်ရှိကြောင်း၊ အဆိုပါမြေကွက် နှင့် အဆောက်အဦများကို မြေငှရန်အမည်ပေါက် ဦးညီညီလွင် နှင့် ဒေါ်မိမိအောင် (ခ) တန်ဘိဘိထံမှ ကုမ္ပဏီမှ ငှားရမ်းအသုံးပြုခြင်းဖြစ်ကြောင်း၊ ယင်းငှားရမ်းမှု ကို ကန့်ကွက်ရန် မရှိပါကြောင်းနှင့် ယင်း မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ရန် သင့်လျော် သည်ဟု ယူဆပါကြောင်း၊ နောက်ဆက်တွဲ(ဂ)

(ဂ) နိုင်ငံခြားရေးဝန်ကြီးဌာန - အဆိုပြုလုပ်ငန်း နှင့် စပ်လျဉ်း၍ China Max Industrial Ltd. သည် ဟောင်ကောင်မြို့ ရှိ ကုမ္ပဏီများ မှတ်ပုံတင်ဌာန တွင် မှတ်ပုံတင်ထားပြီး ဟောင်ကောင်မြို့ တွင် ၂၀၀၇ ခုနှစ်၊ ဇန်နဝါရီလ(၅)ရက်နေ့က စတင်ဖွင့်လှစ်ခဲ့ပြီး၊ ၂၀၀၈ ခုနှစ်၌ မတည်ရင်းနှီးမှု ရှယ်ယာတန်ဖိုး ဟောင်ကောင် ဒေါ်လာ (၂၀၀,၀၀၀) ဖြင့် လုပ်ငန်းလည်ပတ်လျှက်ရှိကြောင်း၊ China Max Industrial Ltd. သည် မြန်မာနိုင်ငံ မှ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက် နှင့် ချုပ်ဆိုထားသော MOA မှာ မှန်ကန်မှု ရှိ ကြောင်း ၊ ထွက်ရှိ လာသော ကုန်ချောများကို ဟောင်ကောင် ဈေးကွက် တွင် ပြန်လည် ရောင်းချ သွားမည် ဖြစ်ကြောင်း နှင့် အဆိုပါ ကုမ္ပဏီ၏ မှတ်ပုံတင် ( Business Registration Card) မိတ္တူ၊ Income Statement နှင့် Statement of Equity မိတ္တူတို့အား ဟောင်ကောင်မြို့ရှိ မြန်မာကောင်စစ်ဝန်ချုပ်ရုံး မှ ပေးပို့လာ ပါ ကြောင်း ၊ နောက်ဆက်တွဲ(ဃ)

(ဃ) ပြည်ထောင်စုမြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ် - ကုမ္ပဏီသည် အဆိုပြု မြေနေရာတွင် ဇာပန်းထိုးလုပ်ငန်းများ လုပ်ကိုင် လျှက် ရှိပါကြောင်းနှင့် လှိုင်သာယာစက်မှုမြို့ စီမံခန့်ခွဲရေးရုံး မှ (၁၈-၆-၂၀၁၀) ရက်စွဲပါ ထောက်ခံချက်နှင့် MOA ရေးထိုးထားသော China Max Industrial Ltd. သည် Units 601-26/F, Waifung Plaza 664 Nathan Rd mongkok Kowloon, Hongkong တွင် အမှန်တကယ်တည်ရှိကြောင်း Federation of Hongkong Industries ၏ (၁၈-၆-၂၀၁၀)ရက်စွဲပါထောက်ခံစာ တို့ကို တင်ပြ လာပါသဖြင့် လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပေးနိုင်ပါရန် ထောက်ခံ ပါကြောင်း၊ နောက်ဆက်တွဲ(င)

၃။ မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့် အပြင် ကိုယ်ပိုင်မီးစက်ဖြင့် လည်း ဆောင်ရွက်မည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၄။ လုပ်ငန်းအဆိုပြုချက်အား နောက်ဆက်တွဲ(စ) ဖြင့် တင်ပြအပ်ပါသည်။ လုပ်ငန်း၏ ရင်းနှီး မြှုပ်နှံမှု ပမာဏမှာ စုစုပေါင်း ကျပ်(၁၁၉.၅၀)သန်း ဖြစ်ပါသည်။ လုပ်ငန်း အတွက် လိုအပ်သော စက်ပစ္စည်းများ ကျပ်(၁၀၁.၇၃)သန်းဖိုး ကို ပြည်တွင်းရှိ မြဝတီ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် ထံမှ ဝယ်ယူပြီး ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သည့် ဇာပန်းထိုးစနှင့် ပန်းပွင့်များကို CMP စနစ်အရ ပြည်ပသို့ (၉၉) ရာခိုင်နှုန်း တင်ပို့၍ Reject (၁) ရာခိုင်နှုန်းကို ပြည်တွင်းတွင် ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။ လုပ်ငန်းသဘာဝရှင်းလင်းချက်နှင့် ပစ္စည်း နမူနာပုံစံများ တင်ပြ ထား ပါသည်။

| စဉ် | အမျိုးအမည် | ရေတွက်ပုံ | ထုတ်လုပ်မှု အရေအတွက် |
|---|---|---|---|
| ၁။ | Embroidery Fabric (ဇာပန်းထိုးထားသည့် ပိတ်စ ) | ကီလိုဂရမ် | ၂၈၀၀၀ |
| ၂။ | Embroidery Motib (ဇာပန်းထိုးထားသည့် ပန်းပွင့်) | ကီလိုဂရမ် | ၁၅၀၀၀ |
| ၃။ | Embroidery Trimming (ဇာပန်းထိုးထားသည့် အနားသား) | ကီလိုဂရမ် | ၁၅၀၀၀ |
| ၄။ | Ladies Garment * | ဒါဇင် | ၃၅၀၀ |
| ၅။ | Garment's Accessories ** | ဒါဇင် | ၃၅၀၀ |

* Ladies Garment မှာ သတို့သမီးခေါင်းဆောင်းပုဝါများနှင့် ဂါဝန်များတွင် အလှဆင်သည့် ပန်းပွင့်များထုတ်လုပ်ခြင်းဖြစ်ပါသည်။

** Garment's Accessories တွင် အမျိုးသမီးသုံး ပွဲထိုင်အဝတ်အစားဖြစ်သော ခါးပတ်၊ ဂါဝန်နှင့် လက်ကိုင်အိတ်များတွင် အလှဆင်သည့် ဇာပန်းပွင့်များအား ပုလဲလုံး ဖန်ချောင်းများ ဖြင့် ထပ်ဆင့် အလှဆင်၍ ထုတ်လုပ်ခြင်းဖြစ်ပါသည်။

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ဝင်ငွေကျပ်(၄.၈၄)သန်းနှင့် နိုင်ငံခြားငွေဖြင့် အမေရိကန်ဒေါ်လာ(၀.၅၂)သန်း ရရှိမည် ဖြစ်ပါသည်။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ CMP လက်ခရငွေအပေါ် (၁၀%) အခွန် ဖြတ်တောက်ရရှိငွေ အမေရိကန်ဒေါ်လာ(၅၂၀၀၀) နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၀.၄၈)သန်း ရရှိမည် ဖြစ်ပါသည်။

၇။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှလုပ်သား(၁၅၁)ဦး ခန့်ထားမည် ဖြစ်ပြီး နိုင်ငံခြားသား ကျွမ်းကျင်သူ အဖြစ် စက်တပ်ဆင်ကာလတွင် (၁)ဦးနှင့် လုပ်ငန်းဆောင်ရွက်သည့် ကာလတွင် (၂)ဦးအား အချိန်ပိုင်း ခန့်ထားမည် ဖြစ်ပါသည်။ လုပ်ငန်းခွင် သာယာရေး အတွက် ကျန်းမာရေး အသိပညာပေးခြင်း၊ အခါအားလျော်စွာ ဟောပြောပွဲများ ပြုလုပ်ပေးခြင်း၊ ဆေးပေးခန်းထားရှိပေးခြင်း၊ လုပ်ငန်းခွင် အတွင်း/ အပြင် ထိခိုက်မှုအတွက် ဆေးကုသမှုနှင့် ဆေးဝါးများ စီစဉ် ပေးခြင်းတို့ကို ဆောင်ရွက်ပေးမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၈။ လုပ်ငန်း စတင်ဆောင်ရွက်ရန် ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာဖြစ်သူ ဦးစိုးဝေ အမည် ဖြင့် မြန်မာ့စီးပွားရေးဘဏ်ရှိ (၉-၇-၂၀၁၀)နေ့ရှိ ငွေလက်ကျန် ကျပ်(၁၄.၀၉)သန်း စာရင်း တင်ပြထားပါသည်။

၉။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်နှင့် မီးဘေး အန္တရာယ်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည် ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိသော နိုင်ငံခြားငွေများကို မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ် နှင့် မြန်မာ့ ရင်းနှီး မြှုပ်နှံမှု နှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ ကုမ္ပဏီ၏ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်း မည် ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက် သွားမည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

<u>ဆုံးဖြတ်ရန်အချက်</u>

၁၁။ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd.) မှ CMP စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဇာပန်းထိုး/ ဇာပန်းကပ် ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

<u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်</u>

၁၂။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(မောင်မောင်သိမ်း )
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

<u>ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့</u>

လျှို့ဝှက်

နောက်ဆက်တွဲ(က)



ပြည်ထောင်စုမြန်မာနိုင်ငံတော်

**ကုန်သွယ်မှုမူဝါဒကောင်စီ**

၂၀၁၀ခုနှစ်၊ အောက်တိုဘာလ(၁၃)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၃၂/၂၀၁၀) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေးအစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၅-ခ | ၁၀၀၇ | တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd.) မှ CMP စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဇာပန်းထိုး/ဇာပန်းကပ် ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်။ |




လျှို့ဝှက်

WWM /TTN 14-10-2010

နောက်ဆက်တွဲ(ခ)



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် (၁) စက်မှုဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၂၉ /၁၈(၁)/၂၀၁၀ (၅၆၈၁)
ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ် ဇူလိုင်လ ၂၁ ရက်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ပြည့်နှစ် ဇွန်လ ၁၆ ရက်နေ့စွဲပါစာအမှတ်၊ ရက၊-၆(က)/မ-၁၀၈၂/၂၀၁၀(၈၆၀၀)

၁။ တိုးမြတ်အောင်အထည်ချုပ်ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd)မှ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ ရွှေလင်ပန်းစက်မှုဇုန်၊ ဗိုလ်အောင်ကျော်လမ်း၊ မြေကွက်အမှတ်(၁၀၉)တွင် CMP စနစ်ဖြင့် ဖာပန်းထိုး၊ ဖာပန်းကပ်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြလျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် အထက်ရည်ညွှန်းစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှCMP စနစ်ဖြင့် ဖာပန်းထိုး၊ ဖာပန်းကပ်ချုပ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) CMP ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစားညီညွတ်မှုရှိပါသည်။
(ခ) CMP လက်ခနှုန်းများတင်ပြထားမှုသည် ဆီလျော်မှုရှိပါသည်။
(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အား အချိုးအစားညီမျှမှုရှိပါသည်။

၃။ သို့ဖြစ်ပါ၍ တိုးမြတ်အောင်အထည်ချုပ်ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd) မှ CMP စနစ်ဖြင့် ဖာပန်းထိုး၊ ဖာပန်းကပ်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်းအပေါ် ဤဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိ(မရှိ)ပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၁/၇/၁၀

ဝန်ကြီး ( )
မြင့်ဆွေ၊ ရုံးအဖွဲ့မှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မိတ္တူကို-
အတွင်းရေးမှူး
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့အထည်အလိပ်လုပ်ငန်း



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၂၆ / ခွဲ-၃ / ၂၀၁၀ (စီ ၅၈၉၈)
ရက်  စွဲ၊ ၂၀၁၀ ခုနှစ် ဩဂုတ်လ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ခုနှစ် ဇွန်လ (၁၆)ရက် နေ့စွဲပါ စာအမှတ်၊ ရကာ - ၆(က)/မ-၁၀၈၂/၂၀၁၀ (၈၆၀၁)

၁။ တိုးမြတ်အောင်အထည်ချုပ်ကုမ္ပဏီလီမိတက်( Toe Myat Aung Garment Co.,Ltd ) မှ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၁၄) ၊ မြေကွက်အမှတ်(၁၀၉) ဗိုလ်အောင်ကျော်လမ်း၊ ဧရိယာ (၂.၃၈၆ ဧက)နှင့် မြေပေါ်ရှိအဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် ဇာပန်းထိုး ဇာပန်းကပ်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းအဆိုပြုချက်တင်ပြခြင်းနှင့်စပ်လျဉ်း၍ အဆိုပြုမြေကွက်ကို စီစစ်ရာ ဧရိယာ ၂.၃၈၆ ဧကရှိ ( ၂၅၂'x ၁၇၀' ) Steel Structure တစ်ထပ်စက်ရုံ အဆောက်အဦနှင့် တွဲလျက် ( ၅၄'x ၁၃၈' ) ရှိ RC (၃)ထပ် အဆောက်အဦ(၁)လုံး ဆောက်လုပ်ထားပါသည်။ တိုးမြတ်အောင် အထည်ချုပ်ကုမ္ပဏီလီမိတက်မှ လုပ်ငန်းအား စမ်းသပ်လည်ပတ်လျက်ရှိပါသည်။ (အဆိုပြုမြေကွက်နှင့် ပတ်ဝန်းကျင်အခြေအနေပြ မြေပုံကြမ်း ပူးတွဲတင်ပြအပ်ပါသည်။ )

၂။ အဆိုပါ မြေကွက်နှင့် အဆောက်အဦများကို မြေဂရန်အမည်ပေါက် ဦးညီညီလွင် + ဒေါ်မီမီအောင်(ခ)တန်ဘိဘိထံမှ တိုးမြတ်အောင်အထည်ချုပ်ကုမ္ပဏီလီမိတက်က ငှားရမ်း အသုံးပြုသည်ဖြစ်ပြီး ယင်းငှားရမ်းမှုကို မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ကန့်ကွက်ရန် မရှိပါ။

၃။ သို့ပါ၍ တိုးမြတ်အောင်အထည်ချုပ်ကုမ္ပဏီလီမိတက်မှ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ၏ မြေပေါ်အခြေအနေအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင်အနေအထားအရ ယင်းမြေနေရာတွင် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်း ပြန်လည်တင်ပြအပ်ပါသည်။

၁၂/၈/၂၀၁၀

ဝန်ကြီး(ကိုယ်စား)
တင့်ဆွေ ဒုတိယဝန်ကြီး

မိတ္တူကို
- ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန။

လိုရှုက်

၁

<u>ရွှေသံလွင်စက်မှုဇုန် ၊ မြေကွက်အမှတ် - ၁၀၃ ၏</u>
<u>တည်နေရာပြမြေပုံကြမ်း</u>




(၁၁၆)

၂၁၂'

၅၄'

(၁၁၁) ၁၇၀' (၁၀၃) ၁၃၈ ဗိုလ်အောင်ကျော်လမ်း

၅၄

၂၁၂

(၁၁၈)


တိုးမြှင့်ဆောက်အထည်ချုပ်ဂုဒေါင်ကုမ္ပဏီလီမိတက်မှ လုပ်ငန်းဆောင်ရွက်မည့်မြေနေရာ

<u>မြေကွက်၏အလားအလာ</u>

| | | |
|---|---|---|
| အရှေ့သို့လားသော် | - | ဗိုလ်အောင်ကျော်လမ်း |
| အနောက်သို့လားသော် | - | မြေကွက်အမှတ်(၁၁၁) ၊ မြေကွက်လပ် |
| တောင်သို့လားသော် | - | မြေကွက်အမှတ် - (၁၁၀) ၊ အဆောက်အဦးဆောက်လုပ်နေဆဲ |
| မြောက်သို့လားသော် | - | မြေကွက်အမှတ် - ၁၁၆ ၊ မြေကွက်လပ် |

လိုရှုက်

နောက်ဆက်တွဲ(ယ)



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
နိုင်ငံခြားရေးဝန်ကြီးဌာန
နေပြည်တော်

စာအမှတ်၊ ၃၂ ၃၃ ၂၇( ၂၉၄၈ )
ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ်၊ စက်တင်ဘာလ ၂ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ China Max Industrial Limited ကုမ္ပဏီ၏ အခြေအနေ(Company Status) အားစုံစမ်းပြန်ကြားခြင်းကိစ္စ

၁။ China Max Industrial Limited သည် ဟောင်ကောင်မြို့ရှိ ကုမ္ပဏီများမှတ်ပုံတင်ဌာန (Company Registration Office)တွင် မှတ်ပုံတင်ထားပြီး ဟောင်ကောင်မြို့တွင် ၂၀၀၇ ခုနှစ်၊ ဇန်နဝါရီလ (၅) ရက်နေ့က စတင်ဖွင့်လှစ်ခဲ့ပြီး၊ ၂၀၀၈ ခုနှစ်၌ မတည်ရင်းနှီးမှု ရှယ်ယာတန်ဖိုး ဟောင်ကောင် ဒေါ်လာ ၂၀၀,၀၀၀ ဖြင့် လုပ်ငန်းလည်ပတ်လျက်ရှိကြောင်း၊ ယခုအခါ China Max Industrial Limited သည် မြန်မာနိုင်ငံမှ Toe Myat Aung Garment Co.,Ltd နှင့် ချုပ်ဆိုထားသော CMP Memorandum of Agreement မှာ မှန်ကန်မှုရှိကြောင်း၊ ထွက်ရှိလာသော ကုန်ချောများကို ဝယ်ယူ၍ ဟောင်ကောင်ဈေးကွက်တွင် ပြန်လည်ရောင်းချသွားမည် ဖြစ်ကြောင်းနှင့် အဆိုပါကုမ္ပဏီ၏ မှတ်ပုံတင် (Business Registration Card) မိတ္တူ၊ Income Statement နှင့် Statement of Equity မိတ္တူတို့အား ပေးပို့တင်ပြလာသည့် မြန်မာ့ကောင်စစ်ဝန်ချုပ်ရုံး၊ ဟောင်ကောင်မြို့၏ ၁၇-၈-၂၀၁၀ ရက်စွဲပါစာအမှတ်၊ ၃၁၃/၃၅-၇ စာမိတ္တူနှင့်ပူးတွဲပါတို့ကို သိသာနိုင်ပါရန်နှင့် လိုအပ်သကဲ့သို့ ဆောင်ရွက်နိုင်ပါရန် ဤစာနှင့်အတူ ပူးတွဲ ပေးပို့အပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(သန်းစိန်၊ ဒုတိယညွှန်ကြားရေးမှူး)

နောက်ဆက်တွဲ(င)



# ပြည်ထောင်စုမြန်မာနိုင်ငံ
# ကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အမှတ်–၂၉၊ မင်းရဲကျော်စွာလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။
☎ ၂၁၄၃၄၄/ ၂၁၄၃၄၅/ ၂၁၄၃၄၆/ ၂၁၄၃၄၇/ ၂၁၄၃၄၈/ ၂၁၄၃၄၉။ ဖက်စ် ၊ ၉၅–၁–၂၁၄၄၈၄။

စာအမှတ်၊ ၈/၁/၁/(ဝန်ဆောင်)/၀၉–၁၁(၂၄၃၂)
ရက်စွဲ ၊ ၂၀၁၀ ခုနှစ်၊ ဩဂုတ်လ ၆ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၁၅.၆.၂၀၁၀ ရက်စွဲပါ စာအမှတ် ရက–၆(က)/မ–၁၀၈၂/၂၀၁၀(၈၅၁၇–က)

၁။ တိုးမြတ်အောင် အထည်ချုပ်ကုမ္ပဏီလီမိတက် ( Toe Myat Aung Garment Co.,Ltd ) မှ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုံ၊ မြေတိုင်းရပ်ကွက်အမှတ် (၁၄)၊ မြေကွက်အမှတ် (၁၀၉)၊ ဗိုလ်အောင်ကျော်လမ်းရှိ မြေ (၂.၃၈၆) ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် အပ်နှံထိုး၊ အပ်နှံကပ်ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းအပေါ် ရည်ညွှန်းစာဖြင့် ဤအသင်းချုပ်သို့ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မေတ္တာရပ်ခံစာကို ရရှိပါသည်။

၂။ အဆိုပါ ကိစ္စနှင့်ပတ်သက်၍ ဤအသင်းချုပ်မှ စိစစ်ခဲ့ရာ တိုးမြတ်အောင် အထည်ချုပ်ကုမ္ပဏီ လီမိတက် သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုံ၊ မြေတိုင်းရပ်ကွက်အမှတ် (၁၄)၊ မြေကွက်အမှတ် (၁၀၉) တွင် စက်ရုံတည်ရှိပြီး၊ အပ်နှံထိုးလုပ်ငန်းများ လုပ်ကိုင်လျှက်ရှိပါကြောင်း၊ လှိုင်သာယာစက်မှုမြို့၊ စီမံခန့်ခွဲရေးရုံးမှ ၁၈.၆.၂၀၁၀ ရက်စွဲပါ ထောက်ခံချက် နှင့် MOA ရေး ထားသော China Max Industral Ltd သည် Units 601-26/F, Waifung Plaza 664 Nathan Rd mongkok Kowloon, Hongkong တွင်အမှန်တကယ်တည်ရှိကြောင်း၊ Federation of Hongkong Industries ၏ ၁၈.၆.၂၀၁၀ ရက်စွဲပါ ထောက်ခံစာစသည့် အထောက်အထားများကို တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ တိုးမြတ်အောင် အထည်ချုပ်ကုမ္ပဏီလီမိတက် ( Toe Myat Aung Garment Co.,Ltd ) မှ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုံတွင် CMP စနစ်ဖြင့် အပ်နှံထိုး၊ အပ်နှံကပ်ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းအပေါ် ခွင့်ပြုပေးနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ ( ကိုယ်စား )
( ဒေါက်တာမောင်မောင်လေး ၊ အထွေထွေအတွင်းရေးမှူး )

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ) / မ-၁၅၀၂/၂၀၁၀(၅၇၂၉၉)၊
ရက်စွဲ ၊ ၂၀၁၀ ခုနှစ်၊ အောက်တိုဘာလ ၈ ရက်။

## ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ။ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd.) မှ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဇာပန်းထိုး/ ဇာပန်းကပ် ချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd.) သည် ဦးညီညီလွင်နှင့် ဒေါ်မိမိအောင်(ခ)တန်ဘိဘိ အမည်ဖြင့် မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့် ရရှိထားသော မြေကွက် အမှတ် (၁၀၉) ၊ မြေတိုင်း ရပ်ကွက် အမှတ်(၁၄) ၊ ဗိုလ်အောင်ကျော်လမ်း၊ ရွှေသံလွင်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေ (၂.၃၈၆)ဧက (၁၀၃၉၃၅ စတုရန်းပေ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဇာပန်းထိုး/ဇာပန်းကပ် ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိုးဝေ (အဘ- ဦးချိန်ဝှက်) မှ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်း၍ (၁၇-၉-၂၀၁၀)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၁/၂၀၁၀) အစည်းအဝေးမှ “ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြလမ်းညွှန်မှုခံယူရန်” ဆုံးဖြတ်ခဲ့ပါသည်။

၃။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာန/ အဖွဲ့အစည်းများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်။

(က) အမှတ်(၁)စက်မှု ဝန်ကြီးဌာနမှ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိပါကြောင်း၊ CMP လက်ခနှုန်းများတင်ပြထားမှုသည် ဆီလျော်မှု ရှိပါ ကြောင်း၊ နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစားညီမျှမှု ရှိပါကြောင်းနှင့် အဆိုပြု တင်ပြချက်အပေါ် ကန့်ကွက်ရန် မရှိပါကြောင်း၊ နောက်ဆက်တွဲ(က)

(ခ) ဆောက်လုပ်ရေးဝန်ကြီးဌာန မှ အဆိုပြု မြေကွက်အားစိစစ်ရာ (၂.၃၈၆) ဧက တွင် (၂၅၂′ x ၁၇၀′) Steel Structure တစ်ထပ်စက်ရုံ အဆောက်အဦ နှင့် တွဲလျှက် (၅၄′ x ၁၃၈′) ရှိ RC (၃) ထပ် အဆောက်အဦ (၁)လုံး ဆောက်လုပ် ထားပြီး၊ ကုမ္ပဏီမှ လုပ်ငန်းအား စမ်းသပ်လည်ပတ်လျှက်ရှိကြောင်း၊ အဆိုပါမြေကွက် နှင့် အဆောက်အဦများကို မြေငှရန်အမည်ပေါက် ဦးညီညီလွင် နှင့် ဒေါ်မိမိအောင် (ခ) တန်ဘိဘိထံမှ ကုမ္ပဏီမှ ငှားရမ်းအသုံးပြုခြင်းဖြစ်ကြောင်း၊ ယင်းငှားရမ်းမှု ကို ကန့်ကွက်ရန် မရှိပါကြောင်းနှင့် ယင်း မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ရန် သင့်လျော် သည်ဟု ယူဆပါကြောင်း၊ နောက်ဆက်တွဲ(ခ)

(ဂ) နိုင်ငံခြားရေးဝန်ကြီးဌာန မှ အဆိုပြု လုပ်ငန်း နှင့် စပ်လျဉ်း၍ China Max Industrial Ltd. သည် ဟောင်ကောင်မြို့ ရှိ ကုမ္ပဏီများ မှတ်ပုံတင်ဌာန တွင် မှတ်ပုံတင်ထားပြီး ဟောင်ကောင်မြို့ တွင် ၂၀၀၇ ခုနှစ်၊ ဇန်နဝါရီလ(၅)ရက်နေ့က စတင်ဖွင့်လှစ်ခဲ့ပြီး၊ ၂၀၀၈ ခုနှစ်၌ မတည်ရင်းနှီးမှု ရှယ်ယာတန်ဖိုး ဟောင်ကောင် ဒေါ်လာ (၂၀၀,၀၀၀) ဖြင့် လုပ်ငန်းလည်ပတ်လျှက်ရှိကြောင်း၊ China Max Industrial Ltd. သည် မြန်မာနိုင်ငံ မှ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက် နှင့် ချုပ်ဆိုထားသော MOA မှာ မှန်ကန်မှု ရှိ ကြောင်း ၊ ထွက်ရှိလာသော ကုန်ချောများကို ဟောင်ကောင် ဈေးကွက် တွင် ပြန်လည် ရောင်းချသွားမည် ဖြစ်ကြောင်း နှင့် အဆိုပါ ကုမ္ပဏီ၏ မှတ်ပုံတင် ( Business Registration Card) မိတ္တူ၊ Income Statement နှင့် Statement of Equity မိတ္တူတို့အား ဟောင်ကောင်မြို့ရှိ မြန်မာကောင်စစ်ဝန်ချုပ်ရုံး မှ ပေးပို့လာ ပါကြောင်း ၊နောက်ဆက်တွဲ(ဂ)

(ဃ) ပြည်ထောင်စုမြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ် မှ ကုမ္ပဏီသည် အဆိုပြု မြေနေရာတွင် ဇာပန်းထိုးလုပ်ငန်းများ လုပ်ကိုင်လျှက် ရှိပါကြောင်းနှင့် လှိုင်သာယာစက်မှုမြို့ စီမံခန့်ခွဲရေးရုံး မှ (၁၈-၆-၂၀၁၀) ရက်စွဲပါ ထောက်ခံချက်နှင့် MOA ရေးထိုးထားသော China Max Industrial Ltd. သည် Units 601-26/F, Waifung Plaza 664 Nathan Rd mongkok Kowloon, Hongkong တွင် အမှန်တကယ်တည်ရှိကြောင်း Federation of Hongkong Industries ၏ (၁၈-၆-၂၀၁၀)ရက်စွဲပါထောက်ခံစာ တို့ကို တင်ပြလာပါသဖြင့် လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပေးနိုင်ပါရန် ထောက်ခံ ပါကြောင်း၊ နောက်ဆက်တွဲ(ဃ)

၄။ လျှပ်စစ်ဓါတ်အား မရရှိသောအချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် ထားရှိ ဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၅။ လုပ်ငန်းအဆိုပြုချက်အား နောက်ဆက်တွဲ(င) ဖြင့် တင်ပြအပ်ပါသည် လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ စုစုပေါင်း ကျပ်(၁၁၉.၅၀)သန်း ဖြစ်ပါသည်။ လုပ်ငန်း အတွက် လိုအပ်သော စက်ပစ္စည်းများ ကျပ်(၁၀၁.၇၃)သန်းဖိုး ကို ပြည်တွင်းရှိ မြဝတီ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်ထံမှ ဝယ်ယူပြီး ဖြစ်ပါသည်။

| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၁၁၉.၅၀ သန်း |
|---|---|
| (က) ငွေသား | ၅.၀၀ |
| (ခ) အဆောက်အဦပြင်ဆင်မှု | ၈.၉၀ |
| (ဂ) စက်ပစ္စည်းကိရိယာများ | ၁၀၁.၇၃ |
| (ဃ) ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ၃.၈၇ |

၆။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သည့် ဇာပန်းထိုးစနှင့် ပန်းပွင့်များကို CMP စနစ်အရ ပြည်ပသို့ (၉၉) ရာခိုင်နှုန်း တင်ပို့၍ Reject (၁) ရာခိုင်နှုန်းကို ပြည်တွင်းတွင် ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်တွင် ထုတ် လုပ် နိုင်မှုနှင့် CMP လက်ခနှုန်း၊ ပြည်တွင်းရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။ လုပ်ငန်းသဘာဝရှင်းလင်းချက်နှင့် ပစ္စည်း နမူနာပုံစံများ ပူးတွဲတင်ပြထားပါသည်။

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု | CMP လက်ခနှုန်း | ပြည်တွင်း ရောင်းဈေးနှုန်း |
|---|---|---|---|---|
| ၁။ | Embroidery Fabric (ဇာပန်းထိုးထားသည့် ပိတ်စ) | ၂၈၀၀၀ (ကီလိုဂရမ်) | ၆.၀၀ (US$/ကီလိုဂရမ်) | ၅၆၀၀ (ကျပ်/ ကီလိုဂရမ်) |
| ၂။ | Embroidery Motib (ဇာပန်းထိုးထားသည့် ပန်းပွင့်) | ၁၅၀၀၀ (ကီလိုဂရမ်) | ၆.၀၀ (US$/ကီလိုဂရမ်) | ၅၆၀၀ (ကျပ်/ ကီလိုဂရမ်) |
| ၃။ | Embroidery Trimming (ဇာပန်းထိုးထားသည့် အနားသား) | ၁၅၀၀၀ (ကီလိုဂရမ်) | ၆.၀၀ (US$/ကီလိုဂရမ်) | ၅၆၀၀ (ကျပ်/ ကီလိုဂရမ်) |
| ၄။ | Ladies Garment * | ၃၅၀၀ (ဒါဇင်) | ၄၈.၀၀ (US$/ ဒါဇင်) | ၄၁၄၀၀ (ကျပ်/ ဒါဇင်) |
| ၅။ | Garment's Accessories * | ၃၅၀၀ (ဒါဇင်) | ၃.၆ (US$/ ဒါဇင်) | ၄၁၄၀ (ကျပ်/ ဒါဇင်) |

* Ladies Garment မှာ သတို့သမီးခေါင်းဆောင်းပုဝါများနှင့် ဂါဝန်များတွင် အလှဆင်သည့် ပန်းပွင့်များထုတ်လုပ်ခြင်းဖြစ်ပါသည်။

* Garment's Accessories တွင် အမျိုးသမီးသုံး ပွဲထိုင်အဝတ်အစားဖြစ်သော ခါးပတ်၊ ဂါဝန်နှင့် လက်ကိုင်အိတ်များတွင် အလှဆင်သည့် ဇာပန်းပွင့်များအား ပုလဲလုံး ဖန်ချောင်းများ ဖြင့် ထပ်ဆင့် အလှဆင်၍ ထုတ်လုပ်ခြင်းဖြစ်ပါသည်။

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ဝင်ငွေကျပ်(၄.၈၄)သန်းနှင့် နိုင်ငံခြားငွေဖြင့် အမေရိကန်ဒေါ်လာ(၀.၅၂)သန်း ရရှိမည် ဖြစ်ပါသည်။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ CMP လက်ခရငွေအပေါ် (၁၀%) အခွန် ဖြတ်တောက်ရရှိငွေ အမေရိကန်ဒေါ်လာ(၅၂၀၀၀) နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၀.၄၈)သန်း ရရှိမည် ဖြစ်ပါသည်။

၈။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှလုပ်သား(၁၅၀)ဦး ခန့်ထားမည် ဖြစ်ပြီး နိုင်ငံခြားသား ကျွမ်းကျင်သူ အဖြစ် စက်တပ်ဆင်ကာလတွင် (၁)ဦးနှင့် လုပ်ငန်းဆောင်ရွက်သည့် ကာလတွင် (၂)ဦးအား အချိန်ပိုင်း ခန့်ထားမည် ဖြစ်ပါသည်။ လုပ်ငန်းခွင် သာယာရေး အတွက် ကျန်းမာရေး အသိပညာပေးခြင်း၊ အခါအားလျော်စွာ ပျော်ပွဲများ ပြုလုပ်ပေးခြင်း၊ ဆေးပေးခန်းထားရှိပေးခြင်း၊ လုပ်ငန်းခွင် အတွင်း/ အပြင် ထိခိုက်မှုအတွက် ဆေးကုသမှုနှင့် ဆေးဝါးများ စီစဉ် ပေးခြင်းတို့ကို ဆောင်ရွက်ပေးမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထား ပါသည်။

၉။ လုပ်ငန်း စတင်ဆောင်ရွက်ရန် ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာဖြစ်သူ ဦးစိုးဝေ အမည် ဖြင့် မြန်မာ့စီးပွားရေးဘဏ်ရှိ (၉-၇-၂၀၁၀)နေ့ရှိ ငွေလက်ကျန် ကျပ်(၁၄.၀၉)သန်း စာရင်း တင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်နှင့် မီးဘေး အန္တရာယ် အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည် ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိသော နိုင်ငံခြားငွေများကို မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ် နှင့် မြန်မာ့ ရင်းနှီး မြှုပ်နှံမှု နှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ ကုမ္ပဏီ၏ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည် ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက် သွားမည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၁၂။ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd.) မှ CMP စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဇာပန်းထိုး/ ဇာပန်းကပ် ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

၁၃။ ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( မောင်မောင်သိမ်း )

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒကောင်စီ

ဒါရိုက်တာနှင့် အစုရှင်များ ၏ အမည်နှင့် နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd.) | ၁။ ဦးစိုးဝေ ( အုပ်ချုပ်မှုဒါရိုက်တာ) | လှျပ်စစ်ဝင်း၊ ဗိုလ်ခြံ၊ ပျဉ်းမပင်၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဒေါ်ကြည်ကြည်မော် (ဒါရိုက်တာ) | အမှတ်(၁)၊ မြကန်သာလမ်း၊ မြသီတာရပ်ကွက်၊ ပျဉ်းမပင်၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဦးချစ်ဖေ (ဒါရိုက်တာ) | အမှတ်(၁၃)၊ ကွမ်းခြံလမ်း၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။ |

၁။ ကုမ္ပဏီ၏ တယ်လီဖုန်းအမှတ်/ ဖက်စ်နံပါတ် - ၀၁ - ၆၁၃၅၄၆

၂။ ကုမ္ပဏီ၏ လိပ်စာအပြည့်အစုံ - အမှတ်(၁၀၉)၊ ဗိုလ်အောင်ကျော်လမ်း၊ ရွှေသံလွင်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

၃။ ကုမ္ပဏီ၏ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်/ရာထူး - ဦးစိုးဝေ
အုပ်ချုပ်မှု ဒါရိုက်တာ

၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့်လုပ်ငန်းများ - စက်မှု /ထုတ်လုပ်မှုလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ - ၈၄၀/၂၀၀၀-၂၀၀၁ (၇-၉-၂၀၀၀)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - ၃၀-၄-၂၀၁၂

၇။ ဘဏ်အမည်နှင့်ငွေစာရင်းအမှတ် - မြန်မာ့စီးပွားရေးဘဏ်
SW 7341

နောက်ဆက်တွဲ(က)



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

# အမှတ် (၁) စက်မှုဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၂၉ /၁၈(၁)/၂၀၁၀ (၅၆၈၁)

ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ် ဇူလိုင်လ ၂၁ ရက်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ပြည့်နှစ် ဇွန်လ ၁၆ ရက်နေ့စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၀၈၂/၂၀၁၀(၈၆၀၀)

၁။ တိုးမြတ်အောင်အထည်ချုပ်ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd)မှ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ ဗိုလ်အောင်ကျော်လမ်း၊ မြေကွက်အမှတ်(၁၀၉)တွင် CMP စနစ်ဖြင့် ဖာပန်းထိုး၊ ဖာပန်းကပ်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြလျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် အထက်ရည်ညွှန်းစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှCMP စနစ်ဖြင့် ဖာပန်းထိုး၊ ဖာပန်းကပ်ချုပ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) CMP ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစားညီညွတ်မှုရှိပါသည်။

(ခ) CMP လက်ခနှုန်းများတင်ပြထားမှုသည် ဆီလျော်မှုရှိပါသည်။

(ဂ) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အား အချိုးအစားညီမျှမှုရှိပါသည်။

၃။ သို့ဖြစ်ပါ၍ တိုးမြတ်အောင်အထည်ချုပ်ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd) မှ CMP စနစ်ဖြင့် ဖာပန်းထိုး၊ ဖာပန်းကပ်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်းအပေါ် ဤဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိ(မရှိ)ပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၁/၇/၂၀၁၀

ဝန်ကြီး ( )

မြင့်ဆွေ၊ ရုံးအဖွဲ့မှူး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို-

အတွင်းရေးမှူး

CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့အထည်အလိပ်လုပ်ငန်း

နောက်ဆက်တွဲ(ခ)



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၂၆ / ခွဲ - ၃ / ၂၀၁၀ (စီ ၅၈၉၈)
ရက် စွဲ၊ ၂၀၁၀ ခုနှစ် ဩဂုတ်လ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၀ ခုနှစ် ဇွန်လ (၁၆)ရက် နေ့စွဲပါ စာအမှတ်၊ ရက - ၆(က)/မ-၁၀၈၂/၂၀၁၀ (၈၆၀၁)

၁။ တိုးမြတ်အောင်အထည်ချုပ်ကုမ္ပဏီလီမိတက်( Toe Myat Aung Garment Co.,Ltd ) မှ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၁၄) ၊ မြေကွက်အမှတ်(၁၀၉) ပိုလ်အောင်ကျော်လမ်း၊ ဧရိယာ (၂.၃၈၆ ဧက)နှင့် မြေပေါ်ရှိအဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် ဇာပန်းထိုး ဇာပန်းကပ်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းအဆိုပြုချက်တင်ပြခြင်းနှင့်စပ်လျဉ်း၍ အဆိုပြုမြေကွက်ကို စီစစ်ရာ ဧရိယာ ၂.၃၈၆ ဧကရှိ ( ၂၅၂' x ၁၇၀' ) Steel Structure တစ်ထပ်စက်ရုံ အဆောက်အဦနှင့် တွဲလျက် ( ၅၄' x ၁၃၈' ) ရှိ RC (၃)ထပ် အဆောက်အဦ(၁)လုံး ဆောက်လုပ်ထားပါသည်။ တိုးမြတ်အောင် အထည်ချုပ်ကုမ္ပဏီလီမိတက်မှ လုပ်ငန်းအား စမ်းသပ်လည်ပတ်လျက်ရှိပါသည်။ (အဆိုပြုမြေကွက် နှင့် ပတ်ဝန်းကျင်အခြေအနေပြ မြေပုံကြမ်း ပူးတွဲတင်ပြအပ်ပါသည်။ )

၂။ အဆိုပါ မြေကွက်နှင့် အဆောက်အဦများကို မြေဂရန်အမည်ပေါက် ဦးညီညီလွင် + ဒေါ်မိမိအောင်(ခ)တန်ဘိဘိထံမှ တိုးမြတ်အောင်အထည်ချုပ်ကုမ္ပဏီလီမိတက်က ငှားရမ်း အသုံးပြုမည်ဖြစ်ပြီး ယင်းငှားရမ်းမှုကို မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ကန့်ကွက်ရန် မရှိပါ ။

၃။ သို့ပါ၍ တိုးမြတ်အောင်အထည်ချုပ်ကုမ္ပဏီလီမိတက်မှ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ၏ မြေပေါ်အခြေအနေအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင်အနေအထားအရ ယင်းမြေနေရာတွင် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်း ပြန်လည်တင်ပြအပ်ပါသည် ။

၂၃/၈/၂၀၁၀
ဝန်ကြီး(ကိုယ်စား)
တင့်ဆွေ ဒုတိယဝန်ကြီး

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ။

# ရွှေသံလွင်ဝင်းရွှန်း၊ မြေကွက်အမှတ် – ၁၀၉၃ ၏
# တည်နေရာပြမြေပုံကြမ်း




(၁၁၀)

၂၅၂'

၃၄'

၁၀၀'

(၁၁၁)

(၁၀၉၃)

၁၃၈

၃၄

၂၅၂'

ဗိုလ်အောင်ကျော်လမ်း

(၁၁၀)


တိုးမြှတ်အောင်အကည်ချုပ်ဂရုစိုက်လိမ်တက်မှ လုပ်ငန်းဆောင်ရွက်မည့်မြေနေရာ

**မြေကွက်၏အလားအလာ**

| | | |
|---|---|---|
| အရှေ့သို့လားသော် | - | ဗိုလ်အောင်ကျော်လမ်း |
| အနောက်သို့လားသော် | - | မြေကွက်အမှတ်(၁၁၁) ၊ မြေကွက်လပ် |
| တောင်သို့လားသော် | - | မြေကွက်အမှတ် - (၁၁၀) အဆောက်အဦဆောက်လုပ်နေဆဲ |
| မြောက်သို့လားသော် | - | မြေကွက်အမှတ် - ၁၀၈၀ ၊ မြေကွက်လပ် |

နောက်ဆက်တွဲ(ဂ)



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
နိုင်ငံခြားရေးဝန်ကြီးဌာန
နေပြည်တော်

1-1367
2/19

စာအမှတ်၊ ၃၂ ၇၇ ၂၇( ၂၉၄၈ )
ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ်၊ စက်တင်ဘာလ ၂ ရက်

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **China Max Industrial Limited ကုမ္ပဏီ၏ အခြေအနေ(Company Status) အားစုံစမ်းပြန်ကြားခြင်းကိစ္စ**

China Max Industrial Limited သည် ဟောင်ကောင်မြို့ရှိ ကုမ္ပဏီများမှတ်ပုံတင်ဌာန (Company Registration Office)တွင် မှတ်ပုံတင်ထားပြီး ဟောင်ကောင်မြို့တွင် ၂၀၀၇ ခုနှစ်၊ ဇန်နဝါရီလ (၅) ရက်နေ့က စတင်ဖွင့်လှစ်ခဲ့ပြီး၊ ၂၀၀၈ ခုနှစ်၌ မတည်ရင်းနှီးမှု ရှယ်ယာတန်ဖိုး ဟောင်ကောင် ဒေါ်လာ ၂၀၀,၀၀၀ ဖြင့် လုပ်ငန်းလည်ပတ်လျက်ရှိကြောင်း၊ ယခုအခါ China Max Industrial Limited သည် မြန်မာနိုင်ငံမှ Toe Myat Aung Garment Co.,Ltd နှင့် ချုပ်ဆိုထားသော CMP Memorandum of Agreement မှာ မှန်ကန်မှုရှိကြောင်း၊ ထွက်ရှိလာသော ကုန်ချောများကို ဝယ်ယူ၍ ဟောင်ကောင်ဈေးကွက်တွင် ပြန်လည်ရောင်းချသွားမည် ဖြစ်ကြောင်းနှင့် အဆိုပါကုမ္ပဏီ၏ မှတ်ပုံတင် (Business Registration Card) မိတ္တူ၊ Income Statement နှင့် Statement of Equity မိတ္တူတို့အား ပေးပို့တင်ပြလာသည့် မြန်မာ့ကောင်စစ်ဝန်ချုပ်ရုံး၊ ဟောင်ကောင်မြို့၏ ၁၇-၈-၂၀၁၀ ရက်စွဲပါစာအမှတ်၊ ၃၁၃/၃၅-၇ စာမိတ္တူနှင့်ပူးတွဲပါတို့ကို သိသာနိုင်ပါရန်နှင့် လိုအပ်သကဲ့သို့ ဆောင်ရွက်နိုင်ပါရန် ဤစာနှင့်အတူ ပူးတွဲ ပေးပို့အပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(သန်းစိန်၊ ဒုတိယညွှန်ကြားရေးမှူး)

နောက်ဆက်တွဲ(ယ)



# ပြည်ထောင်စုမြန်မာနိုင်ငံ ကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အမှတ်–၂၉၊ မင်းရဲကျော်စွာလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။
☎ : ၂၁၄၃၄၄/ ၂၁၄၃၄၅/ ၂၁၄၃၄၆/ ၂၁၄၃၄၇/ ၂၁၄၃၄၈/ ၂၁၄၃၄၉။ ဖက်စ် : ၀၁–၁–၂၁၄၄၈၄။

12/6
1/18

စာအမှတ်။ ။ ဂ/၁/၁/(ဝန်ဆောင်)/ ၀၉–၁၁(၂၄၃၂)
ရက်စွဲ ။ ။ ၂၀၁၀ ခုနှစ်၊ ဩဂုတ်လ ၆ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။**

ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၁၅.၆.၂၀၁၀ ရက်စွဲပါ စာအမှတ် ရက–၆(က)/ မ–၁၀၈၂/ ၂၀၁၀(၈၅၁၇–က)

၁။ တိုးမြတ်အောင် အထည်ချုပ်ကုမ္ပဏီလီမိတက် ( Toe Myat Aung Garment Co.,Ltd ) မှ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုံ၊ မြေတိုင်းရပ်ကွက်အမှတ် (၁၄)၊ မြေကွက်အမှတ် (၁၀၉)၊ ဗိုလ်အောင်ကျော်လမ်းရှိ မြေ (၂.၃၈၆) ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် ဇာပန်းထိုး၊ ဇာပန်းကပ်ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းအပေါ် ရည်ညွှန်းစာဖြင့် ဤအသင်းချုပ်သို့ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မေတ္တာရပ်ခံစာကို ရရှိပါသည်။

၂။ အဆိုပါ ကိစ္စနှင့်ပတ်သက်၍ ဤအသင်းချုပ်မှ စိစစ်ခဲ့ရာ တိုးမြတ်အောင် အထည်ချုပ်ကုမ္ပဏီ လီမိတက် သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုံ၊ မြေတိုင်းရပ်ကွက်အမှတ် (၁၄)၊ မြေကွက်အမှတ် (၁၀၉) တွင် စက်ရုံတည်ရှိပြီး၊ ဇာပန်းထိုးလုပ်ငန်းများ လုပ်ကိုင်လျှက်ရှိပါကြောင်း၊ ဂါ သာယာစက်မှုမြို့၊ စီမံခန့်ခွဲရေးရုံးမှ ၁၈.၆.၂၀၁၀ ရက်စွဲပါ ထောက်ခံချက် နှင့် MOA ရေးပုးထားသော China Max Industral Ltd သည် Units 601-26/F, Waifung Plaza 664 Nathan Rd mongkok Kowloon, Hongkong တွင်အမှန်တကယ်တည်ရှိကြောင်း၊ Federation of Hongkong Industries ၏ ၁၈.၆.၂၀၁၀ ရက်စွဲပါ ထောက်ခံစာစသည့် အထောက်အထားများကို တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ တိုးမြတ်အောင် အထည်ချုပ်ကုမ္ပဏီလီမိတက် ( Toe Myat Aung Garment Co.,Ltd ) မှ ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုံတွင် CMP စနစ်ဖြင့် ဇာပန်းထိုး၊ ဇာပန်းကပ်ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါ ရန် လျှောက်ထားခြင်းအပေါ် ခွင့်ပြုပေးနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ ( ကိုယ် )
( ဒေါက်တာမောင်မောင်လေး ၊ အထွေထွေအတွင်းရေးမှူး )

ကော်မရှင်၏ (၃၁ / ၂၀၁၀) အစည်းအဝေး

အကြောင်းအရာ။ ။ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd.) မှ CMP စနစ်ဖြင့် နိုင်ငံခြားကာအဆင့်မီ ဇာပန်းထိုး/ ဇာပန်းကပ် ချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီလီမိတက် (Toe Myat Aung Garment Co., Ltd.) သည် ဦးညီညီလွင်နှင့် ဒေါ်မိမိအောင်(ခ)တန်ဘိဘိ အမည်ဖြင့် မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့် ရရှိထားသော မြေကွက် အမှတ် (၁၀၉) ၊ မြေတိုင်း ရပ်ကွက် အမှတ်(၇၄) ၊ ဗိုလ်အောင်ကျော်လမ်း၊ ရွှေသံလွင်စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ (၂.၃၈၆)ဧက(၁၀၃၉၃၅ စတုရန်းပေ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်း၍ CMP စနစ်ဖြင့် နိုင်ငံခြားကာအဆင့်မီ ဇာပန်းထိုး/ဇာပန်းကပ် ချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိုးဝေ (အဘ- ဦးချိန်ဝှက်) မှ အဆိုပြုတင်ပြလာပါသည်။

၂။ လျှပ်စစ်ဓါတ်အား မရရှိသောအချိန်တွင် ကိုယ်ပိုင်မီးစက်ဖြင့် ထားရှိ ဆောင်ရွက်မည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၃။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ဌာန/ အဖွဲ့အစည်းများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်။

(က) အမှတ်(၁)စက်မှု ဝန်ကြီးဌာနမှ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိပါကြောင်း၊ CMP လက်ခနှုန်းများတင်ပြထားမှုသည် ဆီလျော်မှု ရှိပါ ကြောင်း၊ နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစားညီမျှမှု ရှိပါကြောင်းနှင့် အဆိုပြု တင်ပြချက်အပေါ် ကန့်ကွက်ရန် မရှိပါကြောင်း၊

(ခ) ဆောက်လုပ်ရေးဝန်ကြီးဌာန မှ အဆိုပြု မြေကွက်အားစိစစ်ရာ (၂.၃၈၆) ဧက တွင် (၂၅၂' x ၁၇၀') Steel Structure တစ်ထပ်စက်ရုံ အဆောက်အဦ နှင့် တွဲလျက် (၅၄' x ၁၃၈') ရှိ RC (၃)ထပ် အဆောက်အဦ (၁)လုံး ဆောက်လုပ်ထားပြီး ၊ ကုမ္ပဏီ မှ လုပ်ငန်းအား စမ်းသပ်လည်ပတ်လျက်ရှိကြောင်း၊ အဆိုပါမြေကွက် နှင့် အဆောက်အဦများကို မြေဂရန်အမည်ပေါက် ဦးညီညီလွင် နှင့် ဒေါ်မိမိအောင် (ခ) တန်ဘိဘိထံမှ ကုမ္ပဏီမှ ငှားရမ်းအသုံးပြုခြင်းဖြစ်ကြောင်းနှင့် ယင်းငှားရမ်းမှု ကို ကန့်ကွက်ရန် မရှိပါကြောင်းနှင့် ယင်း မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ရန် သင့်လျော် သည်ဟု ယူဆပါကြောင်း၊

(ဂ) ပြည်ထောင်စုမြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ် မှ ကုမ္ပဏီသည် အဆိုပြု မြေနေရာတွင် ဇာပန်းထိုးလုပ်ငန်းများ လုပ်ကိုင်လျှက် ရှိပါကြောင်းနှင့် လှိုင်သာယာစက်မှုမြို့ စီမံခန့်ခွဲရေးရုံး မှ (၁၈-၆-၂၀၁၀) ရက်စွဲပါ ထောက်ခံချက်နှင့် MOA ရေးထိုးထားသော China Max Industrial Ltd. သည် Units 601-26/F, Waifung Plaza 664 Nathan Rd mongkok Kowloon, Hongkong တွင် အမှန်တကယ်တည်ရှိကြောင်း Federation of Hongkong Industries ၏ (၁၈-၆-၂၀၁၀)ရက်စွဲပါထောက်ခံစာ တို့ကို တင်ပြလာပါသဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုပေးနိုင်ပါရန် ထောက်ခံပါကြောင်း၊

(ဃ) နိုင်ငံခြားရေးဝန်ကြီးဌာန မှ အဆိုပြု လုပ်ငန်း နှင့် စပ်လျဉ်း၍ China Max Industrial Ltd. သည် ဟောင်ကောင်မြို့ ရှိ ကုမ္ပဏီများ မှတ်ပုံတင်ဌာန တွင် မှတ်ပုံတင်ထားပြီး ဟောင်ကောင်မြို့ တွင် ၂၀၀၇ ခုနှစ်၊ ဇန်နဝါရီလ(၅)ရက်နေ့က စတင်ဖွင့်လှစ်ခဲ့ပြီး၊ ၂၀၀၈ ခုနှစ်၌ မတည်ရင်းနှီးမှု ရှယ်ယာတန်ဖိုး ဟောင်ကောင်ဒေါ်လာ (၂၀၀,၀၀၀) ဖြင့် လုပ်ငန်းလည်ပတ်လျှက်ရှိကြောင်း၊ China Max Industrial Ltd. သည် မြန်မာနိုင်ငံ မှ တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက် နှင့် ချုပ်ဆိုထားသော MOA မှာ မှန်ကန်မှု ရှိ ကြောင်း ၊ ထွက်ရှိလာသော ကုန်ချောများကို ဟောင်ကောင် ဈေးကွက် တွင် ပြန်လည် ရောင်းချသွားမည် ဖြစ်ကြောင်း နှင့် အဆိုပါ ကုမ္ပဏီ၏ မှတ်ပုံတင် (Business Registration Card) မိတ္တူ၊ Income Statement နှင့် Statement of Equity မိတ္တူတို့အား ဟောင်ကောင်မြို့ရှိ မြန်မာကောင်စစ်ဝန်ချုပ်ရုံး မှ ပေးပို့လာပါကြောင်း ၊

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ စုစုပေါင်း ကျပ်(၁၁၉.၅၀)သန်း ဖြစ်ပါသည်။ လုပ်ငန်း အတွက် လိုအပ်သော စက်ပစ္စည်းများ ကျပ်(၁၀၁.၇၃)သန်းဖိုး ကို ပြည်တွင်းရှိ မြဝတီ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်ထံမှ ဝယ်ယူပြီး ဖြစ်ပါသည်။ စက်ပစ္စည်းစာရင်းအား ပူးတွဲ တင်ပြထားပါသည်။

| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၁၁၉.၅၀ သန်း |
|---|---|
| (က) ငွေသား | ၅.၀၀ |
| (ခ) အဆောက်အဦပြင်ဆင်မှု | ၈.၉၀ |
| (ဂ) စက်ပစ္စည်းကိရိယာများ | ၁၀၁.၇၃ |
| (ဃ) ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ၃.၈၇ |




Presented for filing by : U Soe Wai ( Managing Director)

Name, Address and Description of Allotees

| Names & N.R.C No | Address | Description | Number of Shares Allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1. U Soe Wai<br>7 Pa Ma Na<br>(Naing) 017619 | E.P.C Compound, Bo han, Pyin Ma Pin, Mingalardon Township, Yangon. | Merchant | | 3890 Shares |
| 2. Daw Kyi Kyi Maw<br>12. Ta Ka Na<br>(Naing) 144081 | No.1, Myakanthar Street, Myathida Quarter, Pyinmapin, Mingalardon Township, Yangon. | Merchant | | 440 Shares |
| 3. U Chit Pe<br>1/Ma Ka Na<br>(Naing) 059936 | No.13, Kwan Chan Road, Mingalar Taung Nyunt Township, Yangon. | Merchant | | 470 Shares |
| | | | Total: | 4,800 Shares |

Signature

U SOE WAI
Managing Director
TOE MYAT AUNG GARMENT CO., LTD.

Date 1-1-2010






FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)
Return of allotment from the made on the da 22nd of October 199 2000.
on the of 19 of the * TOE MYAT AUNG GARMENT COMPANY LIMITED.
Made pursuant to Section 104(1)
Number of the shares allotted payable in cash ..... 30 shares.
" " " " .....

Nominal amount of the shares so allotted ..... Ks300,000/-
" " " " .....
Amount paid or due and payable on each such share Ks.10,000/-
" " " " Fully paid up:
Number of ordinary shares allotted for a consideration other than cash
Nominal amount of the ordinary shares so allotted NIL
Amount to be treated as paid on each such share NIL
The consideration for which such share have been allotted is as follows:-

---

NOTE: In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the word made substituted for the word "From" after the word "allotments" above.

Here insert name of Company.
Distinguish between preference, ordinary, or other description of shares.

Names, Address and Description of Allotees

| Name & N.R.C No | Address | Description | Number of Shares Allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1. Daw Kyi Kyi Maw. 13/ TaKaNa(Naing) 144081. | No.1, Mya Kan Thar Street, Mya Thida Quarter, Pyin-Ma-Bin, Mingalardon Township, Yangon. | Merchant | | 10 shares. |
| 2. U Soe Wai, 7/PaMaNa(Naing) 017619. | E.P.C. Compound, Bochan Pyin-Ma-Pin, Mingalardon Township, Yangon. | Merchant | | 10 shares. |
| 3. U Chit Pe, 1/MaKaNa(Naing) 059936. | No.13, Kwan Chan Road, Mingalar Taung Nyunt Township, Yangon. | Merchant | | 10 shares. |
| | | | Total. | 30 shares. |

Signature

Date 22-10-2000

U Soe Wai
Managing Director
Toe Myat Aung Garment Co., Ltd.

FORM XXVI

PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : TOE MYAT AUNG GARMENT COMPANY LIMITED.

Presented by : U SOE WAI.(M.D.)

| | The present christian name or names of surnames | Nationality. National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|---|
| 1. | Daw Kyi Kyi Maw. | Myanmar 13/TaKaNa (Naing)144081. | No.1, Mya Kan Thar Street, Mya Thida Quarter, Pyin-Ma-Pin, Mingalardon Township, Yango.. | Merchant | Appointed as Director w.e.f.22.10.2000. |
| 2. | U Soe Wai. | Myanmar. 7/PaMaNa (Naing)017619. | E.P.C. Compound, Bocha.., Pyin-Ma-Pin Mingalardon Township, Yangon. | Merchant | Appointed as Managing Director w.e.f.22.10.2000. |
| 3. | U Chit Pe | Myanmar 1/MaKaNa (Naing)059936. | No.13, Kwan Chan Road, Mingalar Toung Nyunt Township, Yangon. | Merchant | Appointed as Director w.e.f.22.10.2000. |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column "Changes" by placing against the new Director's name the word "in place of ................................" and by writing against any former Director's name the word "dead", "resigned" or as the case may be giving the date of change against the entry.

Dated .. 22.10.2000. ............

Signature ............

Designation ............

U Soe Wai
Managing Director
Toe Myat Aung Garment Co., Ltd.

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# တိုးမြတ်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ

---

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

## Memorandum Of Association

*AND*

## Articles Of Association

*OF*

# TOE MYAT AUNG GARMENT COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# တိုးမြင့်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

* * * * *

၁။ ကုမ္ပဏီ၏အမည်သည် "တိုးမြင့်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက်" ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ် မ,တည် ငွေရင်းသည် ကျပ် ၁၀၀,၀၀၀,၀၀၀/-(ကျပ် သန်းတစ်ရာ တိတိ ) ဖြစ်၍ ငွေကျပ် ၁၀,၀၀၀/- (ကျပ် တစ်သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိ တရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေ သင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

(၁) နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါ ကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ထုပ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊

(ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊

(ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊

(ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊

(င) ဓာတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်း၊

(စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဇ) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊

(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊

(ဋ) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဌ) လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ပ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊

(၂) အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်နှင့် ထွက်ရှိလာသောကုန်ချောများ၊တစ်စိတ်တစ်ဒေသ ကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကား ရောင်းချရန်။

(၃) ဆောက်လုပ်ရေးလုပ်ငန်းများကို လုပ်ကိုင်ရန်နှင့် ယင်းလုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ၊ အပိုပစ္စည်းများနှင့် အခြားဆောက်လုပ်ရေးပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်။

(၄) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

ခြွင်းချက်။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကိုလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စိကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခု ဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ဖော်ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဒေါ်ကြည်ကြည်မော်၊ (ကုန်သည်)<br>အမှတ် ၁၊ မြကန်သာလမ်း၊ မြသီတာရပ်ကွက်။<br>ပျဉ်းမပင်၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၁၃/တကန(နိုင်)<br>၁၄၄၀၈၁ | | (signed) |
| ၂။ | ဦးစိုးဝေ၊ (ကုန်သည်)<br>လှုပ်စစ်ဝင်း၊ ဗိုလ်ခြံ၊ ပျဉ်းမပင်၊<br>မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၇/ပမန(နိုင်)<br>၀၁၇၆၁၉ | | (signed) |
| ၃။ | ဦးချစ်ဖေ (ကုန်သည်)<br>အမှတ် ၁၃၊ ကွမ်းခြံလမ်း၊<br>မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၁/မကန(နိုင်)<br>၀၂၉၉၃၆ | | (signed) |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀၀ ခုနှစ် လ ( )ရက်။

At the time of Registration

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ဦးအိနုစ် (အယ်လ်အယ်လ်ဘီ)
တရားရုံးချုပ်ရှေ့နေနှင့် ဥပဒေအကြံပေး
၃၀၊ (ပထမထပ်)၊ ၄၄-လမ်း၊
ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ ဖုန်း-၉၆၁၃၂။

ဦးအိနုစ် (အယ်လ်အယ်လ်ဘီ)
တရားရုံးချုပ်ရှေ့နေနှင့် ဥပဒေအကြံပေး
၃၀ (ပထမထပ်)၊ ၄၄-လမ်း၊
ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်။
ဖုန်း-၉၆၁၃၂

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် **ကုမ္ပဏီ**

# တိုးမြင့်အောင် အထည်ချုပ် ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

*****

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေ မဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ **အက်ဥပဒေ** နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ **မြန်မာနိုင်ငံ** ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၁၇ (၂) တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤ ကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒိဘင်ချာ သို့မဟုတ် ဒိဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန်အတွက် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာများ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည် ငွေရင်းသည် ကျပ် ၁၀၀,၀၀၀,၀၀၀/- (ကျပ် သန်းတစ်ရာ တိတိ ) ဖြစ်၍ ငွေကျပ် ၁၀,၀၀၀/- (ကျပ် တစ်သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိ တရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေ သင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာ လက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည် အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်၊ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံ တောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက် မနည်း၊ ( ၉ ) ဦးထက် မများစေရ။

ပထမ ဒါရိုက်တာများသည်-

(၁) ဒေါ်ကြည်ကြည်မော်၊
(၂) ဦးစိုးဝေ ...... နှင့်
(၃) ဦးချစ်ဖေ ...... တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်း ဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဉာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည် ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့ကပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦး ဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( - ) စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာ အဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့ သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေး အထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့် ဒါရိုက်တာက မဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာ အားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ-

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့် ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သော စည်းကမ်းချက်များ သတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြား နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်း သတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည် ပေးဆပ်ရန်အတွက် အာမခံများ ထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ၊ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ် အားလုံးကို ဖြစ်စေ၊ တစ်စိတ်တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့ပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင် သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်း အဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်း အဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်း အဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်း မရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြ သည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန် အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်း သာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာ နှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည် ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေ များကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၄င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၄င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်း ကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော် သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၄င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

**နို့တစ်စာ**

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၄င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

**တံဆိပ်**

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှ တစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

**လျော်ကြေး**

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

**ဖျက်သိမ်းခြင်း**

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။



အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှ သည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဒေါ်ကြည်ကြည်မော် (ကုန်သည်)<br>အမှတ် ၁၊ မြကန်သာလမ်း၊ မြသီတာရပ်ကွက်။<br>ပျဉ်းမပင်၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၁၃/တကန(နိုင်)<br>၁၄၄၀၈၁ | | (signature) |
| ၂။ | ဦးစိုးဝေ၊ (ကုန်သည်)<br>လျှပ်စစ်ဝင်း၊ ဗိုလ်ခြံ၊ ပျဉ်းမပင်၊<br>မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၇/ပမန(နိုင်)<br>၀၁၇၆၁၉ | | (signature) |
| ၃။ | ဦးချစ်ဖေ (ကုန်သည်)<br>အမှတ် ၁၃၊ ကွမ်းခြံလမ်း၊<br>မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၁/မကန(နိုင်)<br>၀၂၉၉၃၆ | | (signature) |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀၀ ခုနှစ် လ ( )ရက်။

at the time of Registration

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ဦးအိနုစ် (အယ်လ်အယ်လ်ဘီ)
တရားရုံးချုပ်ရှေ့နေနှင့်ဥပဒေအကြံပေး
၃၀ (ပထမထပ်)၊ ၄၄-လမ်း၊
ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။
ဖုန်း-၉၆၀၄၂

ဦးအိနုစ် (အယ်လ်အယ်လ်ဘီ)
တရားရုံးချုပ်ရှေ့နေနှင့် ဥပဒေအကြံပေး
၃၀၊ (ပထမထပ်)၊ ၄၄-လမ်း၊
ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ ဖုန်း-၉၆၁၃၂။

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

# TOE MYAT AUNG GARMENT COMPANY LIMITED

□□□□□

I. The name of the Company is "TOE MYAT AUNG GARMENT COMPANY LIMITED."

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The Authorised Capital of the Company is Ks. 100,000,000/- (Kyats One Hundred Million Only) divided into ( 10,000 ) shares of Ks. 10,000/-(Kyats Ten Thousand Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

To carry on the business of manufacturing, growing, milling and preserving etc; of the following commodities permitted by the Government, either solely on its own or in joint-venture with any local or foreign partners.

(a) Growing, producing, harvesting, preserving, packaging, milling and manufacturing of agricultural and farm produces.

(b) Felling, extracting (with the permission from the authorities concerned),milling, manufacturing, preserving and seasoning of timber (excluding teak) and forest products.

(c) Livestock breeding, processing and canning of livestock products.

(d) Fishing, preserving, milling, canning and processing of marine products.

(e) Producing fertilizers, insecticides and animal feeds.

(f) Manufacturing of personal goods.

(g) Manufacturing of household goods.

(h) Manufacturing of vehicles, machineries and spares.

(i) Manufacturing of Arts and crafts, lacquerwares and furniture.

(j) Manufacturing of construction materials and paints.

(k) Manufacturing of factory utencils.

(l) Manufacturing of electrical and electronic goods.

(m) Manufacturing of medicines.

(n) Manufacturing of textile, garments and clothings.

(2) To import machinery, spare parts, raw materials and others necessary for those activities mentioned above and to sell wholesale and retail finished and semi-finished products locally and abroad.

(3) To carry on the business of construction works and to import machinery, spare parts and other construction materials necessary for the above mentioned activities.

(4) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

*PROVISO: - Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C. No. | Number of shares taken | Signature |
|---|---|---|---|---|
| 1. | Daw Kyi Kyi Maw, **(Merchant)** No. 1, Mya Kan Thar Street, Mya Thidar Quarter, Pyin-Ma-Pin, Mingalardon Township, Yangon. | **Myanmar** 13/ Ta Ka Na (Naing)- 144081 | | [signature] |
| 2. | U Soe Wai, **(Merchant)** E.P.C. Compound, Bochan, Pyin-Ma-Pin, Mingalardon Township, Yangon. | **Myanmar** 7/ Pa Ma Na (Naing)-017619 | | [signature] |
| 3. | U Chit Pe, **(Merchant)** No. 13, Kwan Chan Road, Mingalar Taung Nyunt Township, Yangon. | **Myanmar** 1/ Ma Ka Na (Naing)-059936 | | [signature] |

Yangon. Dated the day of 2000.
**at the time of Registration**

*It is hereby certified that the persons mentioned above put their signatures in my presence.*

U Ye Noos (LL. B.)
*Advocate & Legal Advisor*
30, (First Floor), 44th Street,
Botataung Township, Yangon. Phone 96132.

**U YE NOOS (LL.B)**
**Advocate & Legal Advisor**
**30 (F/F); 44th Street**
**Botataung Township, Yangon**
**Phone: 296132.**

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

# TOE MYAT AUNG GARMENT COMPANY LIMITED

□□□□□

1. The regulations contained in Table (A) in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The Compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Limited Company and accordingly following provisions shall have effect :-

   (1) *The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

   (2) *Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is Ks. 100,000,000/- (Kyats One Hundred Million Only) divided into (10,000 ) shares of Ks. 10,000/- (Kyats Ten Thousand Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine,

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than ( 9 ).

   The First Directors shall be:

   (1) Daw Kyi Kyi Maw,
   (2) U Soe Wai.....and
   (3) U Chit Pe.

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( - ) shares in the Company in his or in her own name, and it shall be his duty to comply with the provisions of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Directors may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final.When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting to the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:—

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4). To secure the fulfilment of any contracts or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Department Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any perosn or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend or abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws, for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or finacial organisation of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1)* *all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*

*(2)* *all sales and purchases of goods by the Company;*

*(3)* *all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

